Shwe Gabar Hlwan Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း
ကျောက်ကြိတ်ခွဲခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာကောက်ထားလွှာ တင်ပြလာခြင်း | ၁၉-၈-၂၀၁၉ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့တင်ပြခြင်း | ၂၉/၂၀၁၉<br>(၂၆-၈-၂၀၁၉) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန<br>- တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | <br><br>၁၂-၉-၂၀၁၉<br>၁၂-၉-၂၀၁၉ | <br><br>၂၇-၉-၂၀၁၉<br>၂၁-၁၀-၂၀၁၉ | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၄-၉-၂၀၁၉ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြ ရမည့်အချက်များ အကြောင်းကြားခြင်း | ၄-၉-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၈/၂၀၁၉<br>(၁၆-၁၀-၂၀၁၉) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၈၇) ရက်** | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည်  Shwe Gabar Hlwan Co., Ltd.

လုပ်ငန်းအမျိုးအစား  ကျောက်ကြိတ်ခွဲခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

PAT အကြိမ်/ ရက်စွဲ  ၂၉/၂၀၁၉ (၂၆-၈-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(X) | မှတ်ချက် |
|---|---|---|---|
| ၁ | အဆိုပြုလုပ်ငန်း သက်တမ်းအား နှစ် ၅၀ မှ နှစ် ၃၀ သို့ ပြင်ဆင် တင်ပြရန်။ | ✓ | |
| ၂ | လုပ်ငန်းအမျိုးအစား ပြန်လည်ပြင်ဆင် တင်ပြရန်။ | ✓ | |
| ၃ | ဖက်စပ်သဘောတူစာချုပ် ပြန်လည်ပြင်ဆင်၍ တင်ပြရန်။ | ✓ | |
| ၄ | အဆိုပြုလုပ်ငန်း ရင်းနှီးမြှုပ်နှံမည့် အရပ်ဒေသအား သေချာစွာ စိစစ်တင်ပြရန်။ | ✓ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Gabar Hlwan Co., Ltd. မှ ကျောက်ကြိတ်ခွဲခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br><br><br>လုပ်ငန်းအမျိုးအစား | - Shwe Gabar Hlwan Co., Ltd.<br>- ဦးမင်းဇော်ထွေး<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Stone Mill Suwan Co., Ltd. (ထိုင်း) မှ ၈၀ %<br>Shwe Gabar Min Co., Ltd. (မြန်မာ) မှ ၂၀ %<br>- ကျောက်ကြိတ်ခွဲခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-N-၃၈၃၊ ဦးပိုင်အမှတ်-N-၃၈၆၊ ကွင်းအမှတ်-၂၆/OSS ပရဒတ်ကြေးတိုင်ပြင်ကွင်း၊ ပရဒတ်ကျေးရွာအုပ်စု၊ ရေဖြူမြို့နယ်၊ ထားဝယ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီး |
| ၃။ | မြေ/ ပိုင်ရှင်<br>မြေ/ အကျယ်အဝန်း<br>မြေ/ ငှားရမ်းခ(နှစ်စဉ်)<br>မြေ/ငှားရမ်းအသုံးပြုခွင့်သက်တမ်း | - ဦးမင်းဇော်ထွေး<br>- ၇.၅ ဧက<br>- US$ ၃၀၁၂၀<br>- ကနဦး ၃၀ နှစ် ( သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား** | **အမေရိကန်ဒေါ်လာ ၇.၅ သန်း** |

| | နိုင်ငံခြား(၈၀%) US$ (သန်း) | မြန်မာ(၂၀%) US$ (သန်း) | စုစုပေါင်း US$ (သန်း) |
|---|---|---|---|
| ငွေသား | ၅.၁၈၆ | ၁.၄၇၀ | ၆.၆၅၆ |
| **စက်ပစ္စည်း(ပြည်ပဝယ်)** | ၀.၈၁၄ | - | ၀.၈၁၄ |
| **မြေငှားရမ်းခ** | - | ၀.၀၃၀ | ၀.၀၃၀ |
| စုစုပေါင်း | **၆.၀၀၀** | **၁.၅၀၀** | **၇.၅၀၀** |

<table>
<tr><td>၇။</td><td>နှစ်စဉ်ထုတ်လုပ်မှု(ပထမနှစ်)</td><td>
<table>
<tr><th>စဉ်</th><th>အမျိုးအစား</th><th>အရေအတွက်<br>(Ton)</th><th>ဈေးနှုန်း<br>(Ton/ကျပ်)</th></tr>
<tr><td>(က)</td><td>Size 6.9”</td><td>၂၅,၀၀၀</td><td>၃၈,၀၀၀,၀၀၀</td></tr>
<tr><td>(ခ)</td><td>Size 3.4”</td><td>၅,၀၀၀</td><td>၄၅,၀၀၀,၀၀၀</td></tr>
<tr><td>(ဂ)</td><td>Size 3.2”</td><td>၅,၀၀၀</td><td>၅၂,၀၀၀,၀၀၀</td></tr>
<tr><td>(ဃ)</td><td>Chipping</td><td>၁၀,၀၀၀</td><td>၇၀,၀၀၀,၀၀၀</td></tr>
<tr><td>(င)</td><td>Stone – Sand</td><td>၅,၀၀၀</td><td>၁၀,၀၀၀,၀၀၀</td></tr>
</table>
</td></tr>
<tr><td>၈။</td><td>ဝန်ထမ်းခန့်ထားမှု</td><td>
၆၂ ဦး
<table>
<tr><td>ဦးရေ</td><td>ပြည်တွင်း</td><td>ပြည်ပ</td></tr>
<tr><td></td><td>၆၂</td><td>-</td></tr>
<tr><td>အမြင့်ဆုံးလစာ(ကျပ်)</td><td>၇၅၀,၀၀၀</td><td>-</td></tr>
<tr><td>အနိမ့်ဆုံးလစာ(ကျပ်)</td><td>၂၄၀,၀၀၀</td><td></td></tr>
</table>
</td></tr>
<tr><td>၉။</td><td>အခြားတင်ပြချက်</td><td>
- Shwe Gabar Hlwan Co., Ltd.၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ CSR ဆောင်ရွက်မည့်အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်များ၊ JV Agreement၊ Jetty Design နှင့် ယမ်းတိုက် ဆောက်လုပ်ခွင့် ခွင့်ပြုစာတို့အား ပူးတွဲတင်ပြထားပါသည်။<br>
- မြေပိုင်ရှင် ဦးမင်းဇော်ထွေး နှင့် Shwe Gabar Hlwan Co., Ltd. တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ်နှင့် တို့အား တင်ပြထားပါသည်။<br>
- ငွေကြေးအထောက်အထားအဖြစ် Shwe Gabar Hlwan Co., Ltd. အမည်ဖြင့် AYA Bank ၌ ၂၆-၇-၂၀၁၉ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁၅၀,၀၉၈.၅၀ ရှိကြောင်း တင်ပြထားပါသည်။<br>
- တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့၊ အစည်းအဝေးအမှတ်စဉ် ၁၅/၂၀၁၇(၁၃-၁၀-၂၀၁၇)၊ အပိုဒ် (၁၆၇) ဆုံးဖြတ်ချက်အရ Shwe Gabar Min Co., Ltd. အား ကွင်းအမှတ် (၂၆/OSS)၊ ပရဒတ်ကြေးတိုင်ပြင်ကွင်း ရှိ မြေ(၁.၅) ဧကတွင် ကျောက်ထုတ်လုပ်ငန်းခွင်သုံးအဆောက်အဦများ ကြိုတင်ဆောင်ရွက်ခွင့်နှင့် အစည်းအဝေးအမှတ်စဉ် ၁၇/၂၀၁၇(၂၁-၁၁-၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၃) အရ ကွင်းအမှတ် (၂၆/OSS)၊ ပရဒတ်ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(N-၃၈၆)ရှိ မြေ(၆.၀၃)ဧကတွင် ဆိပ်ခံတံတားတည်ဆောက်ခွင့်တို့အား ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားချက်
</td></tr>
</table>

| | | |
|---|---|---|
| | | အား တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် လုပ်ငန်းခွင်ဘေးကင်းရေးနှင့် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များလျှောက်ထားရန် လိုအပ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်သည့်ကဏ္ဍတွင်ပါဝင်ခြင်း မရှိပါ၍ ဝင်ငွေခွန်ကင်းလွတ်ခွင့် မရရှိနိုင်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။ |

**ကန့်သတ်**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/ခ-၀၄၄/ ၂၀၁၉( ၅၀၃ )

ရက်စွဲ၊ ၂၀၁၉ခုနှစ် နိုဝင်ဘာ လ ၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Gabar Hlwan Co., Ltd. မှ ကျောက်ကြိတ်ခွဲခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံ Stone Mill Suwan Co., Ltd. မှ ၈၀ % နှင့် မြန်မာနိုင်ငံ Shwe Gabar Min Co., Ltd. မှ ၂၀% ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် Shwe Gabar Hlwan Co., Ltd. အမည်ဖြင့် ဦးပိုင်အမှတ်-N-၃၈၃၊ ဦးပိုင်အမှတ်-N-၃၈၆၊ ကွင်းအမှတ်-၂၆/OSS ပရဒတ် ကြေးတိုင်ပြင်ကွင်း၊ ပရဒတ်ကျေးရွာအုပ်စု၊ ရေဖြူမြို့နယ်၊ ထားဝယ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၇.၅၃ ဧကပေါ်တွင် ကျောက်ကြိတ်ခွဲခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ Shwe Gabar Hlwan Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ CSR ဆောင်ရွက်မည့်အစီ အစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်များ၊ JV Agreement၊ Jetty Design ၊ Shwe Gabar Min Co., Ltd. အမည်ဖြင့် ယမ်းတိုက် ဆောက်လုပ်ခွင့် ခွင့်ပြုစာ၊ ဦးမင်းဇော်ထွေးနှင့် Shwe Gabar Hlwan Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်းစာချုပ်နှင့် မြေပိုင်ဆိုင်မှု အထောက်အထားတို့အား ပူးတွဲ တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ငှားရမ်းမည်ဖြစ်ပါ သည်။ စုစုပေါင်းမြေ ၇.၅၃ ဧကအတွက် နှစ်စဉ်ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၃၀၁၂၀ ဖြစ်ပါ သည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၃၀ နှစ် ဖြစ်၍ တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၇.၅၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

**ကန့်သတ်**

| ထည့်ဝင်မည့်အမျိုးအစား | နိုင်ငံခြား(၈၀%) US$ (သန်း) | မြန်မာ(၂၀%) US$ (သန်း) | စုစုပေါင်း US$ (သန်း) |
|---|---|---|---|
| ငွေသား | ၅.၁၈၆ | ၁.၄၇၀ | ၆.၆၅၆ |
| **စက်ပစ္စည်း(ပြည်ပဝယ်)** | ၀.၈၁၄ | - | ၀.၈၁၄ |
| **မြေငှားရမ်းခ** | - | ၀.၀၃၀ | ၀.၀၃၀ |
| **စုစုပေါင်း** | **၆.၀၀၀** | **၁.၅၀၀** | **၇.၅၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၆၂ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ ကျပ် ၇၅၀,၀၀၀ အနိမ့်ဆုံးလစာမှာ ကျပ် ၂၄၀,၀၀၀ နှင့် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ရောင်းချမည့်ကျောက်အမျိုးအစားများနှင့် ဈေးနှုန်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (Ton) | ဈေးနှုန်း(Ton/ကျပ်) |
|---|---|---|---|
| (က) | Size 6.9" | ၂၅,၀၀၀ | ၃၈,၀၀၀,၀၀၀ |
| (ခ) | Size 3.4" | ၅,၀၀၀ | ၄၅,၀၀၀,၀၀၀ |
| (ဂ) | Size 3.2" | ၅,၀၀၀ | ၅၂,၀၀၀,၀၀၀ |
| (ဃ) | Chipping | ၁၀,၀၀၀ | ၇၀,၀၀၀,၀၀၀ |
| (င) | Stone – Sand | ၅,၀၀၀ | ၁၀,၀၀၀,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment-EIA)၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan- EMP) နှင့်ပတ်သက်၍ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

(ခ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန အနေဖြင့် အထူးမှတ်ချက်ပြုရန်မရှိပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် Shwe Gabar Hlwan Co., Ltd. အမည်ဖြင့် AYA Bank ၌ ၂၆-၇-၂၀၁၉ ရက်စွဲဖြင့် အမေရိကန် ဒေါ်လာ ၁၅၀,၀၉၈.၅၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိ ကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ် များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထား ရန် လိုအပ်ပါသည်။

(ဃ) တနင်္သာရီတိုင်းဒေသကြီး၊ သစ်တောဦးစီးဌာန နှင့် Shwe Gabar Min Co., Ltd. တို့မှ ဘဝါကြိုဝိုင်း၊ အကွက်အမှတ်(၁၃)ရှိ မြေ (၂.၀၀) ကေတွင် ကျောက်ထုတ်လုပ်ခွင့် (၁) နှစ် (၅-၁၂-၂၀၁၈) မှ (၄-၁၂-၂၀၁၉) အထိ စာချုပ် ချုပ်ဆိုထားကြောင်း ကုမ္ပဏီမှ တင်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

(င) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်သည့်ကဏ္ဍတွင်ပါဝင်ခြင်း မရှိပါ၍ ဝင်ငွေခွန် ကင်းလွတ်ခွင့် မရရှိနိုင်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Gabar Hlwan Co., Ltd. မှ ကျောက်ကြိတ်ခွဲခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန်သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ







# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့
# ထားဝယ်မြို့

စာအမှတ်၊ ၉၂၈၁ /၄၀၀(၁)/၂၀-၁/အဖရ(တနင်္သာရီ)
ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ အောက်တိုဘာလ ၂၃ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၂.၉.၂၀၁၉)ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ခ-၀၄၄/၂၀၁၉(၄၃၃)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံ Stone Mill Suman Co.,Ltd မှ ၈၀%နှင့် မြန်မာနိုင်ငံ Shwe Gabar Min Co.,Ltd မှ ၂၀% ထည့်ဝင်ပြီး Shwe Gabar Hlwan Co.,Ltd အမည်ဖြင့် တနင်္သာရီတိုင်းဒေသကြီး ရေဖြူမြို့နယ်၊ ပရဒတ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၂၆/OSS)၊ ပရဒတ်ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(N-၃၈၃၊ N-၃၈၆)၊ ထွက်ဝကျေးရွာအနီးရှိ စုစုပေါင်းမြေဧရိယာ (၇.၅၃)ကေပေါ်တွင် ကျောက်ခွဲဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Shwe Gabar Hlwan Co.,Ltd မှတင်ပြလာမှုနှင့်ပတ်သက်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် အဆိုပြုချက်တစ်စုံနှင့်အတူရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

D.1432
25-10-19

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ကျောက်ခွဲဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လျှောက်ထားဆောင်ရွက်ခြင်း၊ ထားဝယ်အထူးစီးပွားရေးဇုန်စီမံကိန်းနှင့်ဆက်စပ်စီမံကိန်းလုပ်ငန်းများ (၂-လမ်းသွားကားလမ်းလုပ်ငန်းအပါအဝင်) တည်ဆောက်ရေးအတွက်လိုအပ်သော ကျောက်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအတွက် ဒေသခံဘုန်းဟံထက်ကုမ္ပဏီနှင့် ITD Myanmar International Co., Ltd တို့ လုပ်ကိုင်ဆောင်ရွက်ခွင့်ရရှိထားသည့်နေရာ(ရေဖြူမြို့နယ်၊ ပရဒတ်ကျေးရွာအုပ်စု၊ ဘဝါသစ်တောကြိုးဝိုင်းအမှတ်(၃၁/၃၂)အတွင်း ခန့်မှန်းမြေပုံညွှန်း - LCC 95J / 3, N(A-9428 78, B-944876, C-945877, D947877, E-947873, F-946871, G-945 871, H-944871, I-941876)ရှိ မြေဧရိယာ(၅၅)ကေ ထားဝယ်အထူးစီးပွားရေးဇုန် စီမံကိန်းများ၊ ထားဝယ်အထူးစီးပွားရေးဇုန်အတွင်းနှင့် ဆက်စပ်နယ်နိမိတ်များအတွင်းကျရောက်ခြင်းနှင့် ဆက်စပ်ပတ်သက်၍ ထိခိုက်လာနိုင်မှုမရှိခြင်း၊ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေး

ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း၊ (Environmental Impact Assessment –EIA)၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plam–EMP)နှင့်ပတ်သက်၍ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်မည်ပါက တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းသဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(                )

(မြင့်စန်း၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီး)

မိတ္တူကို

လက်ခံစာတွဲ

မျှောစာတွဲ

နောက်ဆက်တွဲ-ခ




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ ပဆ-(၃)/ (မြေ-MPA)/ ၂၀၁၉ ( ၂၅၄ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၂၇ ရက်

သို့

JPT-4195 30.9.19 ✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၉-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/ ခ-၀၄၄/၂၀၁၉ (၄၃၂)

၁။ Shwe Gabar Hlwan Co., Ltd က တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ပရဒတ်ကျေးရွာအုပ်စု၊ ထွက်ဝကျေးရွာအနီး၊ ဦးပိုင်အမှတ်၊ N-၃၈၃/၃၈၆ ကွင်းအမှတ်၊ ၂၆/OSS (ပရဒတ်ကြေးတိုင်ပြင်ကွင်း)ရှိ မြေဧရိယာ စုစုပေါင်း (၇.၅၃) ဧကပေါ်တွင် ကျောက်ခွဲဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါ သဖြင့် အဆိုပါလုပ်ငန်းတွင် အသုံးပြုမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီမှု ရှိ-မရှိ၊ ကျောက်ခွဲဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သင့်-မသင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာသည့် ကိစ္စဖြစ်ပါသည်။

၂။ Shwe Gabar Hlwan Co., Ltd. သည် ကုမ္ပဏီပိုင်မြေ (၆.၀၃) ဧကကို ကျောထောက် နောက်ခံပြုပြီး မျက်နှာစာအလျား ၅၀၀ပေ၊ အကျယ် ၆၀ပေအရွယ် ပင်မဆိပ်ခံတံတားနှင့် အလျား ၁၂၀၀ ပေ၊ အကျယ် ၄၁ ပေ အရွယ် ချဉ်းကပ်တံတားတို့ကို တည်ဆောက်မည်ဖြစ်ပြီး ဆိပ်ခံတံတား၏ တောင်ဘက်ကပ်လျက်တွင် လှိုင်းဒဏ်လေဒဏ်ခံနိုင်စေရန်အတွက် ကျောက်တန်းစီ Wave Protection Structure အား တည်ဆောက်မည်ဖြစ်ကြောင်း တင်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ Shwe Gabar Hlwan Co., Ltd. မှ ကျောက်ထုတ်လုပ် လုပ်ငန်းခွင်သုံး ဆိပ်ခံတံတား တည်ဆောက်မည့်နေရာသည် ပင်လယ်ကမ်းရိုးတန်းတွင် တည်ရှိသော်လည်း မြန်မာ့ဆိပ်ကမ်း အာဏာပိုင်၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော Port Limit ဧရိယာ၏ ပြင်ပတွင် ကျရောက်နေကြောင်း တွေ့ရှိ ရပါသည်။

၄။ အကယ်၍ Shwe Gabar Hlwan Co., Ltd. အနေဖြင့် ကျောက်ထုတ်လုပ် လုပ်ငန်းခွင်သုံး ဆိပ်ခံတံတားတွင် အပြည်ပြည်ဆိုင်ရာသင်္ဘောကြီးများ ဆိုက်ကပ်အသုံးပြုမည်ဆိုပါက အောက်ပါအတိုင်း ဆောင်ရွက်ရန်လိုအပ်မည် ဖြစ်ပါသည်-

(က) ဆိပ်ကမ်းလုပ်ငန်းများဆောင်ရွက်ခြင်းမှ ရရှိသည့် စုစုပေါင်းဝင်ငွေအပေါ် ၅% ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံသို့ ခိုင်ကြေး (Royalty Fee) အဖြစ် ပေးဆောင်ရမည်ဖြစ်ပြီး မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Shwe Gabar Hlwan Co., Ltd.တို့ အကြား နှစ်ဦးသဘောတူ စာချုပ်ကို ချုပ်ဆိုရန် ၊

(ခ) ဆိပ်ခံတံတားတည်ဆောက်ပြီး ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ စတင်ဆောင်ရွက်မည်ဆိုပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံမှ အပြည်ပြည်ဆိုင်ရာဆိပ်ကမ်းလုပ်ငန်းလုပ်ကိုင်ခွင့် လိုင်စင်ကိုလျှောက်ထားရန်၊

(ဂ) ဆိပ်ခံတံတားသို့ အပြည်ပြည်ဆိုင်ရာသင်္ဘောများ ဝင်/ ထွက် ဆိုက်ကပ်ရာတွင်လည်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်အား သင်္ဘောကိုယ်စားလှယ် (Shipping Agent) အဖြစ် ခန့်အပ်ရန်နှင့် သင်္ဘောများ ဝင်/ထွက်သွားလာရာတွင် သတ်မှတ် Port Due နှင့် Light Due များပေးဆောင်ရန်၊

၅။ Shwe Gabar Hlwan Co., Ltd. မှ ကျောက်ထုတ်လုပ် လုပ်ငန်းခွင်သုံး ဆိပ်ခံတံတားတည်ဆောက်မည့်နေရာသည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော Port Limit ဧရိယာ၏ ပြင်ပတွင်တည်ရှိသော်လည်း တည်ဆောက်မည့် ကျောက်ထုတ်လုပ် လုပ်ငန်းခွင်သုံး ဆိပ်ခံတံတားနှင့် လှိုင်းဒဏ်လေဒဏ်ခံနိုင်စေရန်အတွက် ကျောက်တန်းစီ Wave Protection Structure တို့၏ ပုံစံဒီဇိုင်းတို့အပေါ် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ တင်ပြ၍ အတည်ပြုချက်ရယူရန် လိုအပ်မည်ဖြစ်ကြောင်းတွေ့ရှိရပါသည်။

၆။ ထို့အပြင် Shwe Gabar Hlwan Co., Ltd. အနေဖြင့် ကျောက်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း ဆောင်ရွက်မည့်လုပ်ငန်းအပေါ် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရ၏ သဘောထားမှတ်ချက်တို့နှင့်အညီ ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၇။ Shwe Gabar Hlwan Co., Ltd. မှ ကျောက်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းတွင် အသုံးပြုမည့် စက်ပစ္စည်းများသည် Brand New (Open Type Generator ၊ Empty Fuel Tank ) နှင့် Reconditioned ( Electric Motors ၊ Geneartors ၊ Empty Container and Fuel Tank) တို့ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၈။ သို့ဖြစ်ပါ၍ Shwe Gabar Hlwan Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ပရဒတ်ကျေးရွာအုပ်စု၊ ထွက်ဝကျေးရွာအနီး ၊ ဦးပိုင်အမှတ်၊ N-၃၈၃/၃၈၆ ၊ ကွင်းအမှတ်၊ ၂၆/OSS (ပရဒတ်ကြေးတိုင်ပြင်ကွင်း) ရှိ မြေဧရိယာ စုစုပေါင်း (၇.၅၃) ဧကအား ကျောထောက်နောက်ခံပြု၍ ကျောက်ခွဲစက်ရုံနှင့် ဆိပ်ခံတံတား တည်ဆောက်ပြီး ကျောက်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြု တင်ပြထားခြင်းကိစ္စအပေါ် အထက်စာပိုဒ် (၄)၊ (၅) နှင့် (၆) ပါ အချက်များနှင့်အညီ ဆောင်ရွက်ရန်လိုအပ်မည် ဖြစ်ပါကြောင်းနှင့် တင်သွင်းလာမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီမှု ရှိ/ မရှိ၊ ကျောက်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သင့်/ မသင့်တို့အပေါ် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် အထူးမှတ်ချက်ပြုရန် မရှိပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့်-အမြဲတမ်းအတွင်းဝန်

မိတ္တူကို

- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရုံးလက်ခံ
- မျှောစာတွဲ